# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ) /မ- ၁၄၈၅/၂၀၁၀ ( ၄၄၇၉)၊
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ မတ် လ ၁၈ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ။ပင်လယ်ဇကေရီထုတ်လုပ်မှုကုမ္ပဏီလီမိတက်(Marine Acary Production Co., Ltd.) မှ ငါးအမှုန့်ကြိတ် စက်ရုံ နှင့် ရေခဲစက်ရုံ တည်ဆောက်ပြီး ငါးအမှုန့်နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ပင်လယ်ဇကေရီ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Marine Acary Production Co., Ltd.) သည် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဦးလှဖေ အမည်ဖြင့် ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ အသုံးပြုခွင့် ရရှိထားသော အမှတ် (၉၁၇)၊ ရေကျော် ကြီးကွင်း၊ ဦးပိုင်အမှတ် (၂/၈)၊ ကဒုံကျေးရွာအုပ်စု၊ ဘိုကလေးမြို့နယ်၊ ဖျာပုံခရိုင်၊ ဧရာဝတီတိုင်း ရှိ လန(၃၉)မြေ (၃၂.၃၂)ဧက (၁၃၀၇၉၄.၃၉ စတုရန်းမီတာ) တွင် ငါးအမှုန့်နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်နန်းအောင်လူ (အဘ - ဦးအိုက်စော) မှ အဆိုပြု တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ ယင်းအဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ စက်ရုံတည်ဆောက်လျှက် ရှိသည်မှာ မှန်ကန်ကြောင်း ဧရာဝတီတိုင်းအေးချမ်း သာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံချက် တင်ပြ ထားပါသည်။

၃။ အဆိုပြုချက်တွင် တင်ပြထားသော ကုန်ကြမ်း ရရှိနိုင်မှုနှင့် ကုန်ချောထုတ်လုပ်နိုင်မှု အချိုးအစားမှာ လက်တွေ့ဆောင်ရွက်ရာတွင် ကုန်ချောထုတ်လုပ်နိုင်မှု ပမာဏ နည်းနိုင်ကြောင်း၊ ကုန်ကြမ်း ဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများမှာ ပြင်ပနှင့် နှိုင်းယှဉ်ပါက အနည်းငယ် ကွဲလွဲလျှက် ရှိကြောင်း၊ ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှု ရှိကြောင်း၊ Fish Meal Plant တည်ဆောက်မှုမှာ (၂၅%)၊ Ice Making Plant တည်ဆောက်မှုမှာ စက် ပစ္စည်း

များ ရောက်ရှိနေပြီး (၇၀%) ပြီးစီးနေကြောင်း၊ (၆)လ ခန့်ကြာလျှင် (၁၀၀%) ပြီးစီးမည်ဟု သိရှိရကြောင်းနှင့် ငါးအမှုန့်ကြိတ် စက်ရုံနှင့် ရေခဲစက်ရုံ တည်ဆောက်ခြင်းကို ကန့်ကွက်ရန် မရှိ ကြောင်း မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာနမှ သဘောထား ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

၄။ ကုန်ကြမ်းရရှိနိုင်မှု၊ ကုန်ချောထုတ်လုပ်မှုအမျိုးအစား၊ ကုန်ကြမ်း/ ကုန်ချော ဈေးနှုန်းများကို မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားပြန်ကြားချက်နှင့်အညီ ပြင်ဆင်ပြီး ကုမ္ပဏီမှတင်ပြလာသဖြင့် (၂-၂-၂၀၁၀)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/ ၂၀၁၀) အစည်းအဝေးသို့တင်ပြခဲ့ရာ အစည်းအဝေးမှ "ကုန်သွယ်မှုမူဝါဒကောင်စီသို့တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၅။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခွင့်အား (၃-၃-၂၀၁၀) နေ့ တွင် ကျင်းပ ပြုလုပ်သည့် ကုန်သွယ် မှုမူဝါဒကောင်စီ၏ (၈/ ၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ "လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း"ဆုံးဖြတ်ခဲ့ပါသည်။နောက်ဆက်တွဲ(ခ)

၆။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ(ဂ)ဖြင့်တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ် (၅၁၄.၀၄) သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများကို ပြည်တွင်းရှိ ကုမ္ပဏီများမှ ဝယ်ယူပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ လုပ်ငန်းအတွက်လိုအပ်သော ကုန်ကြမ်းငါးအသေး/အမှုန့်(ပါကင်ငါး)များကို ဘိုကလေး မြို့နယ် ပင်လယ်ကမ်းစပ်များမှ ရရှိနိုင်ကြောင်း တင်ပြထားပါသည်။ လုပ်ငန်းမှ ထုတ်လုပ်သည့် ငါးအမှုန့်များကို တိရစ္ဆာန်အစားအစာ အဖြစ် အသုံးပြုနိုင်ပြီး ပြည်တွင်းတွင် (၉၀) ရာခိုင်နှုန်း နှင့် ပြည်ပသို့ (၁၀) ရာခိုင်နှုန်း တင်ပို့မည် ဖြစ်ပါသည်။ ရေခဲကို ဒေသတွင် (၆၀) ရာခိုင်နှုန်း ရောင်းချမည် ဖြစ်ပြီး (၄၀)ရာခိုင်နှုန်း ကို လုပ်ငန်းတွင် ပြန်လည် အသုံးပြုမည် ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ငါးအမှုန့် (၃၂၅၀)မက်ထရစ်တန် နှင့် ရေခဲ (၅၃၀၀၀)မက်ထရစ်တန် ထုတ်လုပ်မည်ဖြစ်ပါသည်။

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၇၆.၉၄) သန်း၊ ပြည်ပတင်ပို့ရောင်းချရငွေအပေါ် (၁၀%) အခွန် အမေရိကန်ဒေါ်လာ (၀.၀၃)သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၆၂၃.၁၆) သန်း ရရှိမည် ဖြစ်ပါသည်။

၉။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်နှင့် (၉)လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၁၉)ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း မှ လုပ်သား (၁၀၇) ဦး ခန့်ထားမည် ဖြစ်ပါသည်။ စက်ရုံအလုပ်သမားနှင့် ဝန်ထမ်းများ သက်သာချောင်ချိ ရေးအတွက် နေ့လည်စာကျွေးမွေးခြင်း၊ ဆေးခန်းနှင့် စာကြည့်တိုက် ဖွင့်လှစ်ပေးခြင်း၊ အပန်းဖြေရန်နှင့် ကိုယ်လက် လေ့ကျင့်ရန် နေရာများ စီစဉ်ပေးခြင်း၊ အဝတ်အစားများ ပံ့ပိုးပေးခြင်းနှင့် အလုပ်သမားဥပဒေနှင့် အညီ လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်လိုအပ်သောလျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင် Generator ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ ငွေကြေးဆိုင်ရာအထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် သမဝါယမဘဏ်လီမိတက်ရှိ (၁၈-၁၂-၂၀၀၉) နေ့ ငွေလက်ကျန် ကျပ် (၅၀.၀၀) သိန်း တင်ပြထားပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် Waste Water Treatment Plant ကို တည်ဆောက် အသုံးပြုမည် ဖြစ်ပြီး၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့် ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၄။ ပင်လယ်ဇကရီထုတ်လုပ်မှုကုမ္ပဏီလီမိတက်(Marine Acary Production Co., Ltd.) မှ ငါးအမှုန့်ကြိတ် စက်ရုံ နှင့် ရေခဲစက်ရုံ တည်ဆောက်ပြီး ငါး အမှုန့် (တိရိစ္ဆာန် အစားအစာ) နှင့် ရေခဲ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

<u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်။</u>

၁၅။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ် မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့</u>

ပုံစံ(မနသ - ၂)

၃၄၃၆

၃-၅-၂၀၁၀

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၄၁................/၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဧပြီ လ ၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဒေါ်နန်းအောင်လှ

(ခ) အဘ အမည် ........ ဦးအိုက်စော

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၃ /လရန (နိုင်) ၁၁၆၄၀၉

(ဃ) နေရပ်လိပ်စာ ........ အမှတ် (၁၀၂)၊ နဝဒေးရုပ်ရှင်ရုံဥယျာဉ်အိမ်ရာ၊ ကမ္ဘာအေးဘုရားလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** ........ ပင်လယ်ဧကရီထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Marine Acary Production Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ ငါးအမှုန့် (တိရစ္ဆာန်အစားအစာ) နှင့် ရေခဲထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ အမှတ် (၉၁၇) ၊ ရေကျော်ကြီးကွင်း၊ ဦးပိုင်အမှတ် (၂/ ၈)၊ ကဒုံကျေးရွာအုပ်စု၊ ဘိုကလေးမြို့နယ်၊ ဖျာပုံခရိုင်၊ ဧရာဝတီတိုင်း။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၅၁၄.၀၄ (သန်း) (ကျပ်သန်း ငါးရာ၊ တစ်ဆယ့်လေးနှင့် လေးသောင်းခန့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၃ /၂၀၁၀ (မနသ)

ရန်ကုန်မြို့၊ ၁၃၇၁ ခုနှစ်၊ တန်ခူးလပြည့် ကျော် ၇ ရက်

(၂၀၁၀ ခုနှစ်၊ ဧပြီ လ ၅ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) သည် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဦးလှဖေ အမည်ဖြင့် ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ အသုံးပြုခွင့် ရရှိထားသော အမှတ် (၉၁၇)၊ ရေကျော်ကြီးကွင်း၊ ဦးပိုင်အမှတ် (၂/၈)၊ ကဒုံကျေးရွာအုပ်စု၊ ဘိုကလေးမြို့နယ်၊ ဖျာပုံခရိုင်၊ ဧရာဝတီတိုင်းရှိ လန(၃၉) မြေ(၃၂.၃၂)ဧက(၁၃၀၇၉၄.၃၉စတုရန်းမီတာ)တွင် စက်ရုံတည်ဆောက်ပြီး ငါးအမှုန့် (တိရိစ္ဆာန် အစားအစာ) နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၂-၂-၂၀၁၀) နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၄/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၃-၃-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၈/၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ ( ၂၅ - ၃ -၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၂ /၂၀၁၀ ) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) အား ငါးအမှုန့် (တိရိစ္ဆာန် အစားအစာ) နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၄၅ / ၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ တွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်

ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ ပင်လယ်ဇကရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ပင်လယ်ဇကေရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိ ရမည်။

၅။ ပင်လယ်ဇကေရီထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Marine Acary Production Co., Ltd.) ၏ မတည်ငွေရင်းထည့်ဝင်မှုတွင် ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဦးလှဖေ အမည်ပေါက် မြေ ကို အစုရှယ်ယာ အဖြစ် ထည့်ဝင်မည် ဖြစ်ရာ ကုမ္ပဏီ၏ အစုရှယ်ယာ ထည့်ဝင်မှုကိစ္စများ ဆောင်ရွက်ပြီးစီးသည့် အချိန်တွင် အဆိုပါ မြေကွက်အား ပင်လယ်ဇကေရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) ၏ အမည်ပေါက်ဖြစ်စေရေးအတွက် သက်ဆိုင်ရာ သို့ နှင့်လျှောက်ထား ဆောင်ရွက်ရမည်။ ဂရန်ရရှိပါက ဂရန်မိတ္တူ (၅)စောင် ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရ မည်။

၈။ ပင်လယ်ဇကေရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင် တွင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံ ပိတ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၉။ ပင်လယ်ဇကေရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၀။ ပင်လယ်ဇကေရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ ပင်လယ်ဇကေရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက် ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်မည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၅၇ / ၂၀၁၀( ၅ ၄ ၃ ၆ )

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဧပြီ လ ၅ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၊ ပုသိမ်မြို့။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။

၆။ မွေးမြူရေး နှင့်ရေလုပ်ငန်း ဝန်ကြီးဌာန။

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၃။ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၅။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.)